၁၀ ၌ ဖော်ပြထားသော အစိုးရအဖွဲ့၏ အတည်ပြုချက်ဆိုသည်မှာ ပြည်ထောင်စုအစိုးရအဖွဲ့ (သို့မဟုတ်) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အနက် မည်သည့်အစိုးရအဖွဲ့ကို ဆိုလိုကြောင်း ရှင်းလင်းမှုမရှိ၍ ရှင်းလင်းစွာဖော်ပြရန် ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၇.၁ တွင် ငှားရမ်းခများကို ပြုပြင်မွမ်းမံမှုကာလ (-----------)လအတွင်း ကင်းလွတ်ခွင့်ပြုမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အပိုဒ် ၄.၁ တွင် လုပ်ငန်းအကောင်အထည်ဖော်မည့်ကာလမှာ (၁၈)လဖြစ်ကြောင်း ဖော်ပြထားရာ စာချုပ်ပါ လုပ်ငန်းအကောင်အထည်ဖော်မည့် ကာလသည် တညီတညွတ်တည်းဖြစ်ရန် လိုအပ်သဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့ပြင် ပြုပြင်မွမ်းမံမှုကာလဟုလည်းကောင်း၊ လုပ်ငန်းအကောင်အထည်ဖော်မည့်ကာလဟုလည်းကောင်း နှစ်မျိုးသုံးနှုန်းဖော်ပြထားသဖြင့် အမည်တစ်မျိုးတည်းကိုသာ သုံးစွဲဖော်ပြသင့်ပါသည်၊

(ဇ ) စာချုပ်(မူကြမ်း) အပိုဒ် ၇.၁ တွင် ငှားရမ်းခ စတင်ကောက်ယူမည့်နေ့ကို နှစ်ဖက်ညှိနှိုင်းသတ်မှတ်ရမည်ဟု ဖော်ပြထားရာ နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် ငှားရမ်းခ စတင်ရယူမည့်နေ့အား တိကျစွာ သတ်မှတ်ဖော်ပြရန် လိုအပ်ပါသည်၊

(ဈ )စာချုပ်(မူကြမ်း) အပိုဒ် ၇.၂ တွင် တစ်နှစ်လျှင် ငှားရမ်းခငွေ သိန်း ၂၄၀၀ ပေးချေရမည်ဟု ဖော်ပြထားပြီး တစ်လငှားရမ်းခနှုန်းထားအား ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ အပိုဒ် ၇.၃ တွင် ငှားရမ်းခများကို တစ်လလျှင်တစ်ကြိမ် ကြိုတင်၍ အငှားချထားသူ၏ ဘဏ်စာရင်း ပေးသွင်းရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်၊ ယင်းအပိုဒ် ၇.၃ ပါ စည်းကမ်းချက်အရ ငှားရမ်းခအား တစ်လချင်းစီ ပေးသွင်းမည့်သဘော ပေါ်ပေါက်နေပါ၍ စည်းကမ်းချက်များ ညီညွတ်မှုရှိရေး၊ ရှင်းလင်းမှုရှိရေးအတွက် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ငှားရမ်းခအား တစ်လချင်းပေးချေမည် (သို့မဟုတ်) တစ်နှစ်စာ ပေးချေမည်ဆိုသည်ကို ရှင်းလင်းတိကျစွာ ဖော်ပြရန်လည်း လိုအပ်ပါသည်။ ထို့ပြင် ငွေပေးသွင်းရမည့်နေ့ရက်မှာ တိကျစွာ ပါရှိခြင်းမရှိသဖြင့် နှစ်စဉ် နှစ်တစ်နှစ် (သို့မဟုတ်) လတစ်လ၏ မည်သည့်နေ့ရက်တွင် ပေးချေရမည်ဆိုသည်ကို တိကျစွာ သတ်မှတ်ဖော်ပြရန် လိုအပ်ပြီး သတ်မှတ်ရက်အတွင်း ငှားရမ်းခ ပေးချေခြင်းမရှိပါက ဒဏ်ကြေးရယူရန် သင့် မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၇.၂ တွင် ငါးနှစ်ပြည့်သည့်အခါတိုင်း မူလငှားရမ်းခငွေ၏ ၂ %ထက်မပိုဘဲ နှစ်ဖက် သဘောတူညီချက်ဖြင့် ပြင်ဆင်သတ်မှတ်နိုင်ကြောင်း ဖော်ပြထားရာ ၂ %မှာ ငှားရမ်းခအား တိုးမည့် (သို့မဟုတ်) လျော့မည်ဖြစ်ကြောင်း တိကျစွာ ဖော်ပြရန် လိုအပ်ပါသည်။

(ဋ ) စာချုပ်(မူကြမ်း) အပိုဒ် ၈(ဃ) တွင် အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ပြည်တွင်း ပြည်ပကုမ္ပဏီများသို့ ထပ်ဆင့်ငှားရမ်းနိုင်ကြောင်း ဖော်ပြထားရာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၈) ရင်းနှီးမြှုပ်နှံသူ၏ တာဝန်နှင့်အခွင့်အရေးများ၊ ပုဒ်မ ၁၅(ဃ)တွင် ''ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်

ပြုထားသော မြေနှင့်အဆောက်အအုံများကို လုပ်ငန်းသက်တမ်းကာလအတွင်း ထိုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရန်" ပြဋ္ဌာန်းထားသည်ကို သိရှိနိုင်ရန် ဖော်ပြပါသည်၊

(ဌ ) စာချုပ်(မူကြမ်း) အပိုဒ် ၈(ဆ)တွင် ဖော်ပြပါရှိသည့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်အား ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ခြင်း ခေါင်းစဉ်ဖြင့် သီးခြား ဖော်ပြရန်လိုအပ်ပါသည်။

(ဍ ) စာချုပ်(မူကြမ်း) အပိုဒ် ၈(ဠ)တွင် "----ခွင့်ပြုထားသော လုပ်ငန်းများအပြင် ---------ကြိုတင်ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့်ရှိသည်" ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်(မူကြမ်း) နိဒါန်းနှင့် အပိုဒ် ၆ တို့တွင် ဆောင်ရွက်ရန်ခွင့်ပြုထားသည့် လုပ်ငန်းများအား ဖော်ပြထားပြီးဖြစ်သဖြင့် ယင်းအပိုဒ် ၈(ဠ)ပါ စည်းကမ်းချက်အား ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဎ ) စာချုပ်(မူကြမ်း) အပိုဒ် ၈(တ)တွင် ဖော်ပြပါရှိသည့် ပြန်လည်လွှဲပြောင်းခြင်းနှင့် သက်ဆိုင်သည့် စည်းကမ်းချက်အား မြေနှင့်အဆောက်အအုံ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်ဖြင့် သီးခြား ဖော်ပြရန် လိုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ် ၈(ဒ)တွင် ဖော်ပြပါရှိသည့် အာမခံထားရှိခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၈) ရင်းနှီးမြှုပ်နှံသူ၏ တာဝန်နှင့်အခွင့်အရေးများ၊ ပုဒ်မ ၁၅(ဆ)တွင် ရင်းနှီးမြှုပ်နှံသူသည် နိုင်ငံတော်အတွင်း အာမခံလုပ်ငန်းလုပ်ကိုင်ခွင့်ရှိသည့် အာမခံလုပ်ငန်းတစ်ခုခုတွင် သတ်မှတ်သော အာမခံအမျိုးအစားများကို ထားရှိရန် ပြဋ္ဌာန်းပါရှိသည်ကို သိရှိနိုင်ပါရန် ဖော်ပြပါသည်။ ထို့ပြင် အပိုဒ် ၈(ဒ) နဝမမြောက်စာကြောင်းတွင် အငှားချထားခြင်းခံရသူက ငင်းပေးဆောင်ရမည့် အာမခံကြေး၊ ပရီမီယံကြေးတို့ကို ပေးဆောင်ရန် ပျက်ကွက်လျှင် အငှားချထားသူက ပေးဆောင်၍ အငှားချထားခြင်းခံရသူထံမှ အရတောင်းခံရမည်ဟူသော ဖော်ပြထားချက်သည် မလိုလားအပ်သော ရှုတ်ထွေးမှုများ ဖြစ်ပေါ်လာနိုင်သဖြင့် ယင်းစည်းကမ်းချက်အား ပယ်ဖျက်သင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၉ အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ၌ ဌာနမှ ဆောင်ရွက်ပေးရမည့် ကိစ္စရပ်များပါရှိနေရာ ဌာနအနေဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားသင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ် ၉(ဂ)တွင် "မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၏ အခန်း(၁၀)အရ -------" ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းဥပဒေ၏ အခန်း(၁၀)မှာ အမှုထမ်းများနှင့် အလုပ်သမားများ ခန့်ထားခြင်းအပိုင်းအား ပြဋ္ဌာန်းထားခြင်းဖြစ်ပါသည်။ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များနှင့်စပ်လျဉ်း၍ ယင်းဥပဒေ၏ အခန်း(၁၁)တွင် ပြဋ္ဌာန်းထားပါသဖြင့် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ဒ ) စာချုပ်(မူကြမ်း) အပိုဒ် ၉(င)တွင် အောက်ဆုံးကြောင်းတွင် ဖော်ပြပါရှိသည့် "ထိုက်သင့်သော လျော်ကြေးပေးပြီး" ဟူသော စကားရပ်အား ဒုနမှ သတိပြုရန်ဖြစ်ပါသည်၊

(ဓ ) စာချုပ်(မူကြမ်း) အပိုဒ် ၉(ဆ)"မြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေ ပုဒ်မ ၁၄၅(က)နှင့်အညီ ------------" ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ မြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေ ပုဒ်မ ၁၄၅(က) သည် ဖက်စပ်ကုမ္ပဏီများနှင့် စပ်လျဉ်း၍ အစိုးရနှင့် ညွှန်ကြားရေးမှူးချုပ်၏ လုပ်ပိုင်ခွင့်များအား ပြဋ္ဌာန်းထားခြင်းဖြစ်ပါသည်၊ မြေနှင့်အဆောက်အဦကို ပုံသေငှားရမ်းခနှုန်းထားဖြင့် ငှားရမ်းခြင်းဖြစ်သဖြင့် စာရင်းစစ်အဖွဲ့မှ စာရင်းစစ်နိုင်ခွင့် ရှိစေရမည်ဆိုသည့် စည်းကမ်းချက်အား ပယ်ဖျက်သင့်ပါသည်၊

(န )စာချုပ်(မူကြမ်း) အပိုဒ် ၁၁(က)နှင့် (ခ)ပါ စည်းကမ်းချက်များသည် တူညီနေသည်ဟု ယူဆပါသဖြင့် အပိုဒ်ခွဲ(က) အား ပယ်ဖျက်သင့်ပါသည်၊

(ပ ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ တွင် အငြင်းပွားမှုဖြေရှင်းခြင်း စာပိုဒ်အား ဆောင်ရွက်မှုလွယ်ကူစေရန် မင်နီဖြင့် ပြင်ဆင်ရေးသားပေးလိုက်ပါသည်၊

(ဖ ) စာချုပ်(မူကြမ်း) အပိုဒ် ၁၄ လွှမ်းမိုးသည့်ဥပဒေ စာပိုဒ်မှာ မြန်မာနိုင်ငံသား၊ မြန်မာကုမ္ပဏီနှင့် ချုပ်ဆိုခြင်းဖြစ်၍ ယင်းစည်းကမ်းချက်မှာ လိုအပ်ခြင်းမရှိသဖြင့် ပယ်ဖျက်သင့်ပါသည်၊

(ဗ ) စာချုပ်(မူကြမ်း)တွင် သယံဇာတတွေ့ရှိခြင်း၊ အာမခံထားရှိခြင်း စာပိုဒ်များမပါရှိ၍ မင်နီဖြင့် ရေးသား ပေးလိုက်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာ ဖြည့်စွက်ထားပြီးဖြစ်ရန် လိုအပ်ပါသည်၊

(မ ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်၊

(ယ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ဤ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ် ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေး ညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၄။ အနော်မာအနုပညာအဖွဲ့သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသော အဖွဲ့ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့် ရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှု ရှိ မရှိ၊

ကချုပ်များတွင် လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင် လွှဲအပ်ခြင်းခံရသူများ ဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ (၁)စောင် ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

အမိန့်အရ

(ခင်မောင်မောင်၊ ဥ/၁၄၇၀)

တိုင်းဒေသကြီးဥပဒေအရာရှိ

မိတ္တူကို-

ဥပဒေချုပ်ရုံးခန်း၊ ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံး

ရုံးအဖွဲ့မှူး၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ

# ဝန်ကြီးများရုံး မြေနှင့်အဆောက်အဦကို
# ပြတိုက်အပါအဝင်အခြားဝန်ဆောင်မှုလုပ်ငန်းများအဖြစ်အသုံးပြုရန်အတွက်
# ငှားရမ်းခြင်း သဘောတူစာချုပ်

ဤသဘောတူ စာချုပ်ကို ၂၀၁၄ ခုနှစ် ၊ လ၊ ရက်နေ့တွင် ရန်ကုန်မြို့၌ ဦး -------------------၊ ရာထူး---------------------- ကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊အလုံလမ်းနှင့်ပြည်လမ်းဒေါင့်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့ ၊ (နောင်တွင် အငှားချထားသူဟု ခေါ်ဆိုရမည် ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ယင်းအား ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) က တစ်ဖက်နှင့် ဒေါ်လှဲ့ရည်စိုး၊ ရာထူး ဒါရိုက်တာ ကိုယ်စားပြုသော အနော်မာအနုပညာအဖွဲ့၊ အမှတ်(၄၄)၊ရွှေတောင်ကြား-၂လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့၊ (နောင်တွင်အငှားချထားခြင်းခံရသူဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စား လှယ်များ၊ ဆက်ခံသူများနှင့်ဥပဒေအရ လွှဲပြောင်းခြင်း ခံရသူတို့ပါဝင်သည်။)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်း ချက်များနှင့်အညီ ဤနှစ်ဦး သဘောတူ ငှားရမ်းခြင်းစာချုပ်ကို ချုပ်ဆိုကြပါသည်။

နိဒါန်း

၁။ အနော်မာအနုပညာအဖွဲ့သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ဗိုလ်တထောင်မြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ်(၁၃ဂျီ)၊ မြေကွက်အမှတ်(၃)၊ဧရိယာ (၁၅. ၉၆၃)ဧက ပေါ်ရှိ လက်ရှိ အဆောက်အဦများ (ပူးတွဲစာရင်း)တွင် ပြတိုက်လုပ်ငန်း၊ ပန်းချီပြခန်းများ ပြသခြင်း၊ တိုင်းရင်းသား ရိုးရာယဉ်ကျေးမှုပစ္စည်းများနှင့် စားသောက်ကုန်ပစ္စည်းများ ပြသရောင်းချခြင်း၊ ယက္ကန်းစင်များ၊ ဂျပ်ခုပ်လုပ်ငန်းများ ပြုလုပ်ပုံအဆင့်ဆင့်ကို ပြသရောင်းချခြင်း၊ ကျောက်မျက်ရတနာ အရောင်းဆိုင် များဖွင့်လှစ်ခြင်း၊ ပန်း(၁၀)မျိုးပစ္စည်းများပြခန်းပြသခြင်း၊ မြန်မာ့ယဉ်ကျေးမှု တူရိယာပစ္စည်းများကို ကျွမ်းကျင်ပညာရှင်များဖြင့်ပြုလုပ်ပြခြင်း၊ မြန်မာ့ရိုးရာကပွဲများပြသခြင်း၊ စာကြည့်တိုက်ဖွင့်လှစ်ခြင်း၊ မြန်မာ့အနုပညာနှင့် သက်ဆိုင်သော သင်တန်းများ ဖွင့်လှစ်ခြင်း၊ ရုံးခန်းများငှားရမ်းခြင်း၊ အမှတ်တရပစ္စည်းအရောင်းဆိုင်များ ရောင်းချ ခြင်း၊ Relaxation and Recreation service လုပ်ငန်းများနှင့် Outdoor Convention များပြုလုပ်ခြင်း၊ အနော်ရထာလမ်းဘက်ခြမ်းရှိ နှစ်ထပ်တိုက်ငယ်များတွင် Cultural Park များဖွင့်လှစ်ခြင်း လုပ်ငန်းများကို တည်ဆောက်ပြုပြင် မွမ်းမံလုပ်ကိုင် လွှဲပြောင်း သည့် စံနစ် (B.O.T) စနစ်ဖြင့် တည်ဆောက်လုပ်ကိုင်ရန်၊ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင် ထံမှ တင်ဒါ အောင်မြင်ထားသော ကုမ္ပဏီဖြစ်ပါသည်။

အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၂။ အငှားချထားသူသည် ဤစာချုပ်နောက်ဆက်တွဲ(က)တွင်ပူးတွဲဖော်ပြထားသော ဝန်ကြီးများရုံး မြေ နှင့် အဆောက်အဦကို တရားဝင်ပိုင်ဆိုင်ပြီး ငှားရမ်းပိုင်ခွင့် ရှိသူဖြစ်ပါသည်။ အငှားချ ထားခြင်းခံရသူသည် စာချုပ်ပါ လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ငွေကြေးရင်းနှီး မြှုပ်နှံနိုင်သူ၊ ငွေကြေးအင်အား ပြည့်စုံသူ ဖြစ်ကြောင်း အသီးသီး အာမခံပါသည်။

အငှားချထားမည့်ပစ္စည်း

၃။ ရန်ကုန်တိုင်းဒေသကြီး ဗိုလ်တထောင်မြို့နယ်၊ မဟာဗန္ဓုလလမ်း၊ ၊ မြေတိုင်းရပ်ကွက် အမှတ် (၁၃ဂျီ)၊ မြေကွက်အမှတ် (၃)ရှိ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ တရားဝင် ငှားရမ်းပိုင်ခွင့် ရှိသော ဝန်ကြီးများရုံး အဆောက်အဦ ဖြစ်ပါသည်။ (တည်နေရာပြ မြေပုံကို နောက်ဆက်တွဲ(က) ဖြင့် ပူးတွဲထားပါသည်။)

ငှားရမ်းမည့်အချိန်ကာလ

၄။ ငှားရမ်းမည့်အချိန်ကာလသည် ၂၀၁၄ ခုနှစ်၊ ---------- လ၊ ---- ရက်မှ ၂၀၆၄ခုနှစ်၊ ------------လ၊ ----- ရက်နေ့အထိ နှစ်ပေါင်း (၅၀) ဖြစ်ပါသည် ။ကနဦး အငှားချထားသည့်နှစ် (၅၀) ကာလအပိုင်းအခြား ကုန်ဆုံးသည့်အခါ အငှားချထားသည့်ကာလ အပိုင်းအခြားကို နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် နောက်ထပ် (၁၀) နှစ်(တစ်ဆယ်နှစ်) နှစ်ကြိမ် တိုးမြှင့်နိုင်သည်။

လုပ်ငန်းအကောင်အထည်ဖော်မည့်ကာလနှင့် လုပ်ငန်းဆောင်ရွက်မည့်ဧရိယာ

၅။ (က) လုပ်ငန်း အကောင်အထည်ဖော်မည့် ကာလမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့် ပြုသည့်နေ့မှ ရက်ပေါင်း(၃၀) အတွင်းနှစ်ဦး သဘောတူ စာချုပ်ချုပ်ဆို၍ ထိုနေ့မှ (၂၄)လ ဖြစ်ပြီး လုပ်ငန်းစီမံကိန်းအရ သတ်မှတ်ထားသည့် အဆောက်အဦအားလုံးကို သတ်မှတ် ကာလ အတွင်း အငှားချထားခြင်းခံရသူသည် အပြီးမွမ်းမံပြုပြင် ဖွင့်လှစ်ရမည်။ သတ်မှတ် ကာလအတွင်း ဖွင့်လှစ်နိုင်ခြင်း မရှိပါက လုပ်ငန်း အကောင်အထည် ဖော်မည့်ကာလကို အငှားချထားသူနှင့် ပြန်လည်ညှိနှိုင်း သတ်မှတ်နိုင်ခွင့်ရှိပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ကို ပြန်လည်ရယူရမည်။

(ခ) အငှားချထားခြင်း ခံရသူသည် အဆိုပါ မြေ(၁၅.၉၆၃)ဧက ခန့်မှန်းဧရိယာ (၅၉၅၃၁) စတုရန်းပေ အပေါ်တွင် ပြတိုက်လုပ်ငန်းကိုလည်းကောင်း၊ ခန့်မှန်း ဧရိယာ (၂၈၆၉၄) စတုရန်းပေ အပေါ်တွင် မြန်မာ့ရိုးရာယဉ်ကျေးမှု ဆိုင်ရာ အရောင်းပြခန်းများ လုပ်ငန်းကို လည်းကောင်း၊ ခန့်မှန်း ဧရိယာ (၆၅၁၂)စတုရန်းပေ ပေါ်တွင် စာကြည့်တိုက် ဖွင့်လှစ်ခြင်း လုပ်ငန်းကိုလည်းကောင်း၊ ခန့်မှန်းဧရိယာ (၇၀၃၁)စတုရန်းပေ ပေါ်တွင် မြန်မာ့ရိုးရာ ယဉ်ကျေးမှု အဆို၊အက၊ အရေး၊အတီး များဖော်ထုတ်ပြသ ခြင်းလုပ်ငန်းကို

လည်းကောင်း၊ ခန့်မှန်းဧရိယာ (၆၂၄၃၉) စတုရန်းပေအပေါ်တွင် ရုံးခန်းများငှားရမ်းခြင်းလုပ်ငန်းများကို လည်းကောင်း၊ ခန့်မှန်းဧရိယာ (၂၀၄၃၂)စတုရန်းပေ အပေါ်တွင် Cultural Park များ ငှားရမ်းခြင်း လုပ်ငန်းကို လည်းကောင်း၊ Relaxation and Recreation Service လုပ်ငန်း များကိုလည်းကောင်း၊ အပြင်ဘက် မြက်ခင်းပြင်နေရာအား တိုင်းရင်းသားရိုးရာအထိမ်း အမှတ်နေ့များတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ခြင်း နိုင်ငံတကာနှင့် ယဉ်ကျေးမှုဖလှယ်ပွဲများပြုလုပ်ခြင်း၊ မြန်မာ့ရိုးရာယဉ်ကျေးမှု အနုပညာဆိုင်ရာ ပြပွဲများ ပြုလုပ်ခြင်း စသည်ဖြင့် အသီးသီး လုပ်ကိုင် ဆောင်ရွက်ပါမည်။ ယင်းသို့ လုပ်ကိုင် ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ပါမည်။ (လုပ်ငန်းများအကောင် အထည် ဖော်မည့်နေရာ အသေးစိတ်ကို နောက်ဆက်တွဲ(ခ) ဖြင့် ပူးတွဲ ထားပါသည်။)

<u>မတည်ရင်းနှီးငွေ</u>

၆။ ဤသဘောတူစာချုပ်အရ ဆောင်ရွက်မည့်လုပ်ငန်းစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်၄၇၄၂၁. ၃၆သန်း (စာဖြင့် ကျပ်သန်းလေးသောင်းခုနှစ်ထောင် လေးရာနှစ်ဆယ့်တစ်သန်း နှင့် သုံးသိန်းခြောက်သောင်း) နှင့် အမေရိကန်ဒေါ်လာ ၁၁. ၄၈သန်း(စာဖြင့် အမေရိကန် ဒေါ်လာ တစ်ဆယ့်တစ်သန်း လေးသိန်းရှစ်သောင်း) ဖြစ်ပါသည်။ အဆိုပါ ရင်းနှီးမြှုပ်နှံမှု ပမာဏကို အနော်မာအနုပညာအဖွဲ့ မှ ကျခံ ဆောင်ရွက်မည် ဖြစ်ပါသည်။ လုပ်ငန်း လိုအပ်ချက်အရ ရင်းနှီးမြှုပ်နှံမှုပမာဏ ပြောင်းလဲပြင်ဆင်ရန် လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည် တင်ပြရမည် ဖြစ်ပါသည်။

<u>ဆောင်ရွက်ရန်ခွင့်ပြုထားသည့်လုပ်ငန်းများ</u>

၇။ အငှားချထားခြင်းခံရသူသည် အငှားချထားသည့်အဆောက်အဦမြေတွင် ပြတိုက်လုပ်ငန်းများ၊ ပန်းချီပြခန်းများပြသခြင်း၊ တိုင်းရင်းသား ရိုးရာယဉ်ကျေးမှုပစ္စည်းများနှင့် စားသောက်ကုန်ပစ္စည်းများ ပြသရောင်းချခြင်း၊ ယက္ကန်းစင်များ၊ ဂျပ်ခုပ်လုပ်ငန်းများ ပြုလုပ်ပုံအဆင့်ဆင့်ကို ပြသရောင်းချခြင်း၊ ကျောက်မျက်ရတနာအရောင်းဆိုင်များဖွင့်လှစ်ခြင်း၊ ပန်းဆယ်မျိုးပြခန်းများပြသခြင်း၊ မြန်မာ့ရိုးရာပစ္စည်း အရောင်းဆိုင်ဖွင့်လှစ်ခြင်း၊ မြန်မာ့ယဉ်ကျေးမှုတူရိယာပစ္စည်းများကို ကျွမ်းကျင်ပညာရှင်များဖြင့်ပြုလုပ်ပြခြင်း၊ မြန်မာ့ရိုးရာကပွဲများ ပြသခြင်း၊ စာကြည့်တိုက်ဖွင့်လှစ်ခြင်း၊ မြန်မာ့အနုပညာနှင့် သက်ဆိုင်သော သင်တန်းများ ဖွင့်လှစ်ခြင်း၊ ရုံးခန်းများငှားရမ်းခြင်း၊ အမှတ်တရပစ္စည်းအရောင်းဆိုင်များရောင်းချခြင်း၊ Relaxation and Recreation service လုပ်ငန်းများနှင့် Outdoor Convention များပြုလုပ်ခြင်း၊ အနော်ရထာလမ်းဘက်ခြမ်းရှိ နှစ်ထပ်တိုက်ငယ် များတွင် Cultural Park များ ဖွင့်လှစ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ခွင့်ရှိသည်။

ငှားရမ်းခနှုန်းထား

၈။ (က) အငှားချထားသူသည် ငှားရမ်းခများကို ပြုပြင်မွမ်းမံမှုကာလ (၂၄)လအတွင်း ကင်းလွတ်ခွင့် ခွင့်ပြုပေးရမည်။ သတ်မှတ်ကာလအတွင်း ဖွင့်လှစ်နိုင်ခြင်း မရှိပါက လုပ်ငန်း အကောင်အထည် ဖော်မည့်ကာလကို ငှားရမ်းသူနှင့်အငှားချထားခြင်းခံရသူ နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်နိုင်သည်။ငှားရမ်းခ နှုန်းထားများ စတင်ကောက်ယူမည့်နေ့သည် လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ဖြစ်သည်။

(ခ) အငှားချထားသည့်မြေနှင့် အဆောက်အဦအား လုပ်ငန်းစတင်သည့် နေ့မှစ၍ (၁)နှစ် လျှင် မြန်မာငွေ ကျပ်သိန်း(၃၀၀၀)ကို တစ်လလျှင်ကျပ်သိန်း(၂၅၀)နှုန်း ငှားရမ်းခ အဖြစ် ပေးချေရပါမည်။ ငါးနှစ်ပြည့်သည့်အခါတိုင်းမူလငှားရမ်းခငွေ၏ (၅%)ထက်မနည်း (၇%) ထက်မများဘဲနှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် တိုးမြှင့်ပြင်ဆင်သတ်မှတ်နိုင်သည်။

ငှားရမ်းခပေးချေမည့်စံနစ်

၉။ ငှားရမ်းခနှုန်းထားမှာ ပြတိုက်လုပ်ငန်းများ၊ ပန်းချီပြခန်းများပြသခြင်း၊ တိုင်းရင်းသား ရိုးရာယဉ်ကျေးမှုပစ္စည်းများနှင့် စားသောက်ကုန် ပစ္စည်းများ ပြသရောင်းချခြင်း၊ ယက္ကန်းစင် များ၊ ဂျပ်ခုပ်လုပ်ငန်းများ ပြုလုပ်ပုံအဆင့်ဆင့်ကို ပြသရောင်းချခြင်း၊ ကျောက်မျက်ရတနာ အရောင်းဆိုင်များဖွင့်လှစ်ခြင်း၊ ပန်းဆယ်မျိုးပြခန်း များပြသခြင်း၊ မြန်မာ့ရိုးရာပစ္စည်း အရောင်းဆိုင်ဖွင့်လှစ်ခြင်း၊ မြန်မာ့ယဉ်ကျေးမှုတူရိယာ ပစ္စည်းများကို ကျွမ်းကျင်ပညာရှင် များဖြင့်ပြုလုပ်ပြခြင်း၊ မြန်မာ့ရိုးရာ ကပွဲများ ပြသခြင်း၊ စာကြည့်တိုက်ဖွင့်လှစ်ခြင်း၊ မြန်မာ့အနုပညာနှင့် သက်ဆိုင်သော သင်တန်းများ ဖွင့်လှစ်ခြင်း၊ ရုံးခန်းများငှားရမ်းခြင်း၊ အမှတ်တရပစ္စည်းအရောင်းဆိုင်များရောင်းချခြင်း၊ Relaxation and Recreation service လုပ်ငန်းများနှင့် Outdoor Convention များပြုလုပ်ခြင်း၊ အနော်ရထာလမ်း ဘက်ခြမ်းရှိ နှစ်ထပ်တိုက်ငယ် များတွင် Cultural Park များ ဖွင့်လှစ်ခြင်း လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ရန်အတွက် လုပ်ငန်းစတင်သည့်နေ့မှစ၍(၁)နှစ်လျှင် မြန်မာငွေ ကျပ်သိန်း(၃၀၀၀) ကိုတစ်လလျှင် တစ်ကြိမ်သိန်း(၂၅၀)နှုန်း ငှားရမ်းခ အဖြစ်ပေးချေ ရပါမည်။ လုပ်ငန်းစတင် သည့်နေ့မှ (၁)လအတွင်း အငှားချထားသူ၏ ဘဏ်စာရင်းသို့ ပေးသွင်းရန်ဖြစ်ပါသည်။ သတ်မှတ်ရက်အတွင်း ပေးသွင်းခြင်းမရှိပါက ငှားရမ်းခငွေ၏(၁၀%)ကို ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်။နှစ်အလိုက် ငှားရမ်းခငွေကို (၅)နှစ်လျှင် တစ်ကြိမ်ပြင်ဆင် သတ်မှတ်ရာတွင် မူလ ငှားရမ်းခငွေ၏(၅%) ထက်မနည်း(၇%)ထက်မများ ပေးချေရန် ပြန်လည်ညှိနှိုင်း ဆောင်ရွက်ကြပါမည်။

အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

၁၀။ အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ -

(က) အငှားချထားခြင်းခံရသူသည် နိုင်ငံတကာအဆင့်မီ ပြတိုက်အဖြစ်လက်ရှိ အဆောက်အအုံကို ပြင်ဆင်ရာတွင် ပြတိုက်အင်္ဂါရပ်များနှင့်အညီ မူလအဆောက်အဦ၏ ခိုင်ခံမှုနှင့် ဆေးအရောင်၊ မူရင်းပုံသဏ္ဌာန်တို့ကို ပျက်ယွင်းခြင်းမရှိစေဘဲ ပြုပြင်ပြင်ဆင်မွမ်းမံမည့်ကာလ(၂၄)လအတွင်းပြီးစီးအောင် ပြင်ဆင်မွမ်းမံရမည်၊ သို့ရာတွင် စာချုပ်အပိုဒ် ၈(က) အရ ပြင်ဆင်မွမ်းမံမည့်ကာလကို စာချုပ်ဝင်များမှ ပြန်လည်ညှိနှိုင်းသတ်မှတ်နိုင်သည်။

(ခ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့် အညီခွင့်ပြုထားသော လုပ်ငန်းများမှတစ်ပါး အငှားချထားသည့်မြေနှင့် အဆောက်အဦအား ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရပါ။ အငှားချ ထားခြင်း ခံရသူသည် အငှားချထား သည့်မြေနှင့် အဆောက်အဦအား ပေါင်နှံခြင်း နှင့်ရောင်းချခြင်းတို့ကို မပြုလုပ်ရပါ။

(ဂ) အငှားချထားခြင်းခံရသူသည် စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရာတွင် Cultural Park များနှင့် ရုံးခန်းများ ပြုပြင်မွမ်းမံခြင်းလုပ်ငန်းများကို နည်းပညာအရသော်လည်းကောင်း၊ စီမံခန့်ခွဲမှုအရသော်လည်းကောင်း အခြားကုမ္ပဏီများဖြင့် ပူးပေါင်းဆောင်ရွက်နိုင်သည်။

(ဃ) အငှားချထားခြင်းခံရသူသည် ဤစာချုပ်တွင် ဖော်ပြထားသည့် လုပ်ငန်းများကို တည်ဆဲ ဥပဒေများနှင့်အညီ အငှားချထားသူ၏ခွင့်ပြုချက်ဖြင့် ပြည်တွင်းပြည်ပကုမ္ပဏီများသို့ ထပ်ဆင့်ငှားရမ်းခြင်း ပြုလုပ်နိုင်သည်။

(င) လိုအပ်သည့်အခါ အငှားချထားသူဘက်မှ ဝင်ရောက်စစ်ဆေးနိုင်ရန် အငှားချထားသူက နည်းလမ်းတကျ တာဝန်ပေးအပ်ထားသော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပေးရမည်။

(စ) အငှားချထားခြင်းခံရသူသည် အငှားချထားသည့် အဆောက်အဦအား တပ်ဆင်မှု၊ ပုံသဏ္ဌာန်ပြောင်းလဲမှု၊ ပြုပြင်မွမ်းမံမှုများကို အငှားချထားသူထံ တင်ပြ၍ ကြိုတင်ခွင့်ပြုချက်ရယူရမည့်အပြင် မြန်မာနိုင်ငံရှေးဟောင်းသုတေသန အမျိုးသားပြတိုက်နှင့် စာကြည့်တိုက်ဦးစီးဌာန နှင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ)တို့၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(ဆ) စာချုပ်ပါခွင့်ပြုထားသည့် လုပ်ငန်းများလုပ်ကိုင်ရာမှ ထွက်ရှိသည့် အခိုးအငွေ့၊စွန့်ပစ်ပစ္စည်းများကြောင့် သဘာဝပတ်ဝန်းကျင်ညစ်ညမ်းမှု မြေထု၊ ရေထု၊ လေထုညစ်ညမ်းမှုနှင့်သဘာဝအန္တရာယ် ဖြစ်ပေါ်ခြင်းတို့မရှိစေရန် တည်ဆဲဥပဒေ၊ နည်းဥပဒေ၊

အမိန့်၊ ညွှန်ကြားချက်၊ စည်းမျဉ်းစည်းကမ်း များနှင့်အညီ စနစ်တကျစီမံ ဆောင်ရွက်ထား ရမည်။

(ဇ) အငှားချထားသော အဆောက်အအုံတွင် ပြတိုက်လုပ်ငန်း လုပ်ကိုင်ခြင်းကြောင့် ပတ်ဝန်းကျင် ထိခိုက်နစ်နာမှု မရှိစေရန်နှင့် အနှောက်အယှက် မဖြစ်စေရန်၊ အငှားချထားခြင်းခံ ရသူမှ တာဝန်ယူဆောင်ရွက်ရမည်။

(ဈ) အငှားချထားသူ၏ စာဖြင့်ရေးသားထားသော ကြိုတင်ခွင့်ပြုချက်မရှိဘဲ အငှားချထားသည့် အဆောက်အဦပိုင်းဆိုင်ရာ အတွင်းပိုင်း ပြုပြင်ပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ခြင်းမပြုရ။

(ည) စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် လိုအပ်သော လုပ်ငန်းလိုင်စင်များ ရယူ ဆောင်ရွက်ရမည်။

(ဋ) ဤစာချုပ်တွင် ဖော်ပြထားသော လုပ်ငန်းကို အသုံးချပြီး ဥပဒေနှင့် မလွတ်ကင်းသောကိစ္စရပ်များ ဆောင်ရွက်ခြင်း မပြုရ။

(ဌ) အငှားချထားသော အဆောက်အအုံတွင် ဤစာချုပ်အရ ခွင့်ပြုထားသော လုပ်ငန်းများအပြင် အခြားလုပ်ငန်းကို လုပ်ကိုင်ပါက အငှားချထားသူ၏ စာဖြင့် ကြိုတင်ခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ဍ) အငှားချထားသည့် မြေ နှင့် အဆောက်အဦ များကို လျော်ကန် သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းရမည်။ အငှားချထားသူသည် အဆောက်အအုံနှင့် မြေတို့ ပျက်စီးဆုံးရှုံးခြင်းဖြစ်ပေါ်ရခြင်းမှာ အငှားချထားခြင်း ခံရသူ၏ မှားယွင်းသော လုပ်ဆောင်ချက် သို့မဟုတ် သင့်လျော်သလို ဆောင်ရွက်ရန်၊ ပျက်ကွက်ခြင်း သို့မဟုတ် ပေါ့လျော့ခြင်း ကြောင့်ဖြစ်ပွားပါက ယင်းပစ္စည်းများအား နဂိုမူလ အခြေအနေသို့ ရောက်ရှိအောင် အငှားချ ထားခြင်းခံရသူ ၏ ကုန်ကျစရိတ်ဖြင့် ပြင်ဆင် မွမ်းမံရမည်။

(ဎ) အငှားချထားသည့် မြေ၊ အဆောက်အအုံနှင့် စပ်လျဉ်းသည့် အခွန်အခများကို တည်ဆဲ ဥပဒေနှင့်အညီ အငှားချထားခြင်းခံရသူက လစဉ်မှန်မှန် ပေးဆောင်ရန်တာဝန်ရှိသည်။

(ဏ) အငှားချထားသည့် သက်တမ်းတစ်လျှောက်လုံးတွင် မြေနှင့်အဆောက်အအုံကို ယင်း၏ အဆင့်အတန်းနှင့် လျော်ညီသော စံနှုန်းအတိုင်း ထိန်းသိမ်းပြုပြင်ရမည်။ စာချုပ်သက်တမ်း တိုးမြှင့်ခဲ့လျှင် ယင်းကာလအပိုင်းအခြားပါ အကျုံးဝင်သည်ဟု မှတ်ယူရမည်။

(တ) အငှားချထားခြင်းခံရသူသည် ဤစာချုပ်သက်တမ်းကုန်ဆုံးသည့်အခါတွင်ဖြစ်စေ၊ စာချုပ်ရပ်စဲသည့်အခါတွင်ဖြစ်စေ ယင်းသို့ ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှ ( ၉၀ )ရက်အတွင်း အငှားချထားသောမြေနှင့် အဆောက်အဦကို ငှားရမ်းသူ၏

လက်ဝယ်သို့ အဖိုးစားနားတစ်စုံတစ်ရာမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် လက်ရောက်ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

(ထ) အငှားချထားသည့်မြေနှင့် အဆောက်အဦ၌ တပ်ဆင်မှုများ၊ ပုံသဏ္ဌာန် ပြောင်းလဲမှုများနှင့် တိုးချဲ့မှုများအားလုံးသည် ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန်မလိုဘဲ အငှားချထားသူပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ ပစ္စည်းများကို လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူလိုပါက ယင်းပစ္စည်းများ တပ်ဆင်ခြင်းမပြုမီကတည်းက ဖြုတ်ယူသွားမည့်ပစ္စည်းစာရင်းကို နှစ်ဖက်ညှိနှိုင်း အတည်ပြုချက်ရယူထားရမည် ဖြစ်သည်။

(ဒ) ငှားရမ်းထားသည့်သက်တမ်းအတွင်း အငှားချထားသည့် (လွှဲပြောင်းပေးထားသည့်) အဆောက်အအုံများကို ဆုံးရှုံးခြင်း သို့မဟုတ် ပျက်စီးခြင်းအတွက် အငှားချထားသည့် အဆောက်အအုံများ၏ ခန့်မှန်းရတန်ဖိုးအပြည့်ဖြင့် အာမခံထားရှိရမည်။ အဆိုပါအာမခံထားခြင်း၏ ပေါ်လစီစာချုပ်နှင့် အဆိုပါအာမခံအတွက် နောက်ဆုံးပေးသွင်းသည့် ပရီမီယံအာမခံကြေး၏ ပြေစာမိတ္တူကို အငှားချထားသူသို့ ပေးပို့ထားရမည်။ အဆိုပါအာမခံကို အကြောင်းပြု၍ ရရှိသော အာမခံ လျော်ကြေးငွေအားလုံးကို ဆိုခဲ့သည့် အဆောက်အဦများပြန်လည်တည်ဆောက်ခြင်းနှင့် မူလအခြေအနေ ပြန်ရောက်အောင် ပြုလုပ်ခြင်းအတွက် ကျခံသုံးစွဲရမည်။

<u>အငှားချထားသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ</u>

၁၁။ အငှားချထားသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) စာချုပ်ပါလုပ်ငန်းများကို အငှားချထားခြင်းခံရသူက လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက်အစိုးရနှင့် သက်ဆိုင်သော လုပ်ငန်းများတွင် အငှားချထားသူက ကူညီဆောင်ရွက် ပေးရမည်။

(ခ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၏ အခန်း(၁၁)အရ ရရန်ရှိသော အခွန်ကင်းလွတ်ခွင့်များ၊ အခွန်သက်သာခွင့်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံမှ ခွင့်ပြုမိန့်များရယူရာတွင် ကူညီရမည်၊

(ဂ) အငှားချထားသူသည် အများပြည်သူ အကျိုးငှာ ပြည်ထောင်စုလွှတ်တော်၏ ဆုံးဖြတ်ချက်ဖြင့် နိုင်ငံတော် စီမံကိန်းတစ်ရပ်ရပ်ကို ဆောင်ရွက်ရန် လိုအပ်လာလျှင်သော်လည်းကောင်း၊ စာချုပ်သက်တမ်းမပြည့်မီ အငှားချထားသည့်မြေနှင့် အဆောက်အဦတို့ကို အငှားချထားခြင်းခံရသူထံမှ ပြန်လည်သိမ်းယူရန်အကြောင်း ပေါ်ပေါက်လာလျှင်သော်လည်းကောင်း၊ အငှားချထားခြင်းခံရသူမှ ဆောင်ရွက်ထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ် အခြေခံ၍ ထိုက်သင့်သောလျော်ကြေးပေးပြီး ပြန်လည်သိမ်းယူခွင့်ရှိစေရမည်။

စာချုပ်ရုပ်စဲခြင်း

၁၂။ အောက်ပါအကြောင်းအရာတစ်ခုခုပေါ်ပေါက်ခဲ့လျှင် စာချုပ်ဝင်အချင်းချင်း နို့တစ်စာပေး၍ စာချုပ်ကို ရုပ်စဲနိုင်သည်-

(က) အငှားချထားခြင်းခံရသူက စာချုပ်ပါ စည်းကမ်းချက်နှင့် တာဝန်အရပ်ရပ်ကို ဖောက်ဖျက် ခြင်းနှင့်လိုက်နာရန်ပျက်ကွက်ခြင်း၊

(ခ) အငှား ချထားခြင်း ခံရသူသည် အငှားချထားသည့် မြေနှင့်အဆောက် အအုံကို ဥပဒေနှင့် မညီသော ကိစ္စရပ်များအတွက် ဆောင်ရွက်ခြင်း၊

(ဂ) လုပ်ငန်းတွင် ဆက်တိုက်အရှုံးပေါ်နေခြင်း၊

(ဃ) မလွန်ဆန်နိုင်သော ဖြစ်ရပ်သည် တစ်ဆက်တည်း (၁ )လ ဖြစ်ပေါ်နေခြင်း၊

(င) စာချုပ်ပါပူးတွဲပါ လုပ်ငန်းများကို အကောင်အထည် ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

(စ) အငှားချထားခြင်းခံရသူက လူမွဲအဖြစ်ခံယူခြင်း၊

(ဆ) စာချုပ်သက်တမ်းမကုန်ဆုံးမီတစ်ဖက်နှင့် တစ်ဖက် (၃)လကြိုတင်အကြောင်းကြားစာ ပို့၍ နှစ်ဦးသဘောတူညီချက်ဖြင့် ရုပ်စဲခြင်း၊

(ဇ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

အငြင်းပွားမှုဖြေရှင်းခြင်း

၁၃။ ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦး နှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကို ခံယူရမည်။

စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်

၁၄။ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိပြီးနောက် နှစ်ဦးနှစ်ဘက် စာချုပ်ရေးထိုးသည့် နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

ညှိနှိုင်းဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း

၁၅။ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေ များ (သို့မဟုတ်) စည်းကမ်းချက် များသည် ဤသဘောတူစာချုပ် စည်းကမ်းချက် များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက် ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦး နှစ်ဖက် လိုအပ်သောညှိနှိုင်းဆွေးနွေးမှုများ ပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်နှီးမြုပ်နှံမှုကော်မရှင်က သဘောတူမှုသာလျှင် အတည်ဖြစ်ပြီး၊ ဤသဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယ နှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် လုပ်ငန်း ဆောင်ရွက်မှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူ သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခွင့် မရှိစေရ။

ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)နာရီအတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူထံသို့ ချက်ချင်း စာဖြင့် ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံ အတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး စာချုပ်ပါလုပ်ငန်းနှင့် တိုက်ရိုက် သက်ဆိုင်သော ပြတ်တောက်ကာလ အပိုင်းအခြားအတွက် အဆောက်အဦငှားရမ်းခကို သက်သာခွင့် ပြုနိုင်သည်။

သယံဇာတတွေ့ရှိခြင်း

၁၇။ ဤစာချုပ်သက်တမ်းအတွင်း အငှားချထားသည့် မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ကို တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူကပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်း တင်ပြရမည်။ အငှားချထားသူသည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့် အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော် ခွင့်ရှိစေရမည်။

အာမခံထားရှိခြင်း

၁၈။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း ငှားရမ်းသည့် မြေနှင့် အဆောက်အဦအပြင် အခြားပစ္စည်းများအတွက် မြန်မာ့အာမခံဥပဒေနှင့်အညီ အာမခံ ထားရှိရမည်။

အဆောက်အဦသို့ ပြန်လည်ဝင်ရောက်ခြင်း

၁၉။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောက်ရွက်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှု များ ပြုပြင်ရန် သို့မဟုတ် လိုက်နာရန် အငှားချထားခြင်း ခံရသူ သို့ အကြောင်းကြားစာ

ပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှု မရှိပါက အငှားချထားသူသည် အငှားချထားသည့် အဆောက်အဦကို ပြန်လည် ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသောငှားရမ်းခ သို့မဟုတ် ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်းမရှိစေရ။

၂၀။ မြေနှင့် အဆောက်အဦးပြန်လည်လွှဲပြောင်းခြင်း

အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၆)လအတွင်း လက်ရှိငှားရမ်း ထားသည့် မြေနှင့်အဆောက်အဦးများကို အငှားချထားသူသို့ပြန်လည် လက်ရောက်ပေးအပ် ရမည်ဖြစ်ပြီး၊ မိမိ၏စရိတ်ဖြင့် ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို ဖယ်ရှားပေးပြီး အဆိုပါပစ္စည်းများကို အငှားချထားခြင်းခံရသူမှ ပြန်လည်ပိုင်ဆိုင်ခွင့် အခွင့်အရေး ရှိစေရမည်။

၂၁။ ပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းခြင်း

အငှားချထားခြင်း ခံရသူသည် လုပ်ငန်းဆောင်ရွက်သည့် နေရာနှင့် အနီးတစ်ဝိုက်တွင် လေထု၊ ရေထု၊မြေထုနှင့် အခြားပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်စေရန် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲ ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ခြင်းဆိုင်ရာဥပဒေ၊နည်းဥပဒေများ၊ အမိန့်များနှင့် အညီ ပတ်ဝန်းကျင်ထိမ်းသိမ်း ကာကွယ်မှု အတွက် ဆောင်ရွက်ရန် တာဝန်ရှိသည်။

အထွေထွေ

၂၂။ ဤစာချုပ်တွင် ပါရှိသော မြေပုံနှင့် နောက်ဆက်တွဲများသည် စာချုပ်၏အစိတ်အပိုင်း ဖြစ်စေရမည်။

၂၃။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် စာဖြင့် ဆက်သွယ်ရန် ကိစ္စပေါ်ပေါက်လာလျှင် အောက်ပါလိပ်စာအတိုင်းဆက်သွယ်ရမည်ဖြစ်ပြီး၊ လိပ်စာပြင်ဆင်လိုပါက တစ်ဖက်နှင့်တစ်ဖက် စာဖြင့်အကြောင်းကြားရမည်။

အငှားချထားသူ

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီး

လိပ်စာ -အလုံလမ်းနှင့်ပြည်လမ်းထောင့်၊ဒဂုံမြို့နယ်။

ဖုန်း -

အငှားချထားခြင်းခံရသူ

# Map of the old Secretariat






# the Secretariat
## Museum of Myanmar Art



ဒေါ်လွဲ့ရည်စိုး
ဒါရိုက်တာ၊ အနော်မာအနုပညာအဖွဲ့
နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် - ၁၂/ဗဟန(နိုင်) ၀၉၁၈၆၉
လိပ်စာ - အမှတ်(၄၄)၊ ရွှေတောင်ကြား(၂)လမ်း၊ ဗဟန်းမြို့နယ်။
ဖုန်း - ၀၁-၇၀၀၄၄၆၊ ၀၉-၅၀၁၇၈၇၇

အထက်ဖော်ပြပါ သဘောတူစာချုပ်စည်းကမ်းချက်များ၊ တာ၀န်နှင့် လုပ်ပိုင်ခွင့်များကို အသေးစိတ်ဖတ်ရှုသိရှိနားလည်သဘောတူလက်ခံကြသဖြင့် ဤ၀န်ကြီးများရုံး အဆောက်အဦ နှင့်မြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ်၊ ---------- လ ---- ရက်နေ့ တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ တို့ ကိုယ်တိုင် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

<u>အငှားချထားသူ</u>(ကိုယ်စား)

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး၊

<u>အငှားချထားခြင်းခံရသူ (ကိုယ်စား)</u>

အမည်
(ဒေါ်လွဲ့ရည်စိုး)
၁၂/ဗဟန(နိုင်) ၀၉၁၈၆၉
ရာထူး၊ ဒါရိုက်တာ
အနော်မာအနုပညာအဖွဲ့

အသိသက်သေများ

၁။အမည်-
မှတ်ပုံတင်အမှတ်
လိပ်စာ

၂။အမည်-
မှတ်ပုံတင်အမှတ်
လိပ်စာ

# ပြတိုက်များ

အသုံးပြုနိုင်သည့် ခန့်မှန်း ဧရိယာ
၅၉၅၃၁ စတုရန်းပေ

**အနုပညာပြတိုက်**

ဤပြတိုက်တွင် ပန်းချီအနုပညာပြတိုက်၊ ပန်းပုအနုပညာပြတိုက်၊
ရိုးရာယဉ်ကျေးမှုဆိုင်ရာပြတိုက်များ ပါဝင်သည်။

**သမိုင်းဆိုင်ရာပြတိုက်**

ဤပြတိုက်တွင် မြန်မာ့နိုင်ငံရေးနှင့်ပတ်သက်သော
သမိုင်းဆိုင်ရာအဖြစ်အပျက်များ ပါဝင်သည်။

**အတွင်းဝန်များရုံးဆိုင်ရာပြတိုက်**

ဤပြတိုက်တွင် အတွင်းဝန်များရုံးနှင့်ပတ်သက်သော သမိုင်းဆိုင်ရာအချက်အလက်များ၊
ဗိသုကာဆိုင်ရာအချက်အလက်များ ပါဝင်သည်။



# ဗိုလ်ချုပ်အောင်ဆန်း၊ အာဇာနည်ခေါင်းဆောင်များနှင့် ပါလီမန်အဆောက်အဦ

**အာဇာနည်ခေါင်းဆောင်ကြီးများ ကျဆုံးသွားသောပြခန်း**

ဤပြခန်းတွင် ကျဆုံးသွားသော အာဇာနည်ခေါင်းဆောင်ကြီးများ၏ ကျဆုံးစဉ်က အခင်းအကျင်းအတိုင်း သမိုင်းအထောက်အထားများဖြင့် ထားရှိပါမည်။

**ဗိုလ်ချုပ်အောင်ဆန်း၏ရုံးခန်း**

ဤပြခန်းတွင် ဗိုလ်ချုပ်အောင်ဆန်းရုံးထိုင်စဉ်က အခင်းအကျင်းအတိုင်း သမိုင်းအထောက်အထားများဖြင့် ထားရှိပါမည်။

**ပါလီမန်အဆောက်အဦ**

ယခင်ပါလီမန်ကျင်းပသည့် အခင်းအကျင်းအတိုင်း သမိုင်းအထောက်အထားများဖြင့် ထားရှိပါမည်။



# မြက်ခင်းပြင်

 မြက်ခင်းပြင်

အပြင်ဘက်မြက်ခင်းပြင်နေရာအား တိုင်းရင်းသားရိုးရာ အထိမ်းအမှတ်နေ့များတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ခြင်း၊ နိုင်ငံတကာနှင့် ယဉ်ကျေးမှု ဖလှယ်ပွဲများ ပြုလုပ်ခြင်း၊ မြန်မာ့ရိုးရာယဉ်ကျေးမှုအနုပညာဆိုင်ရာ ပြပွဲများ ပြုလုပ်ခြင်း။



# မြန်မာ့ရိုးရာယဉ်ကျေးမှုဆိုင်ရာ အရောင်းပြခန်း စာကြည့်တိုက်နှင့် ယဉ်ကျေးမှုကဇာတ်ရုံ

**မြန်မာ့ရိုးရာယဉ်ကျေးမှုဆိုင်ရာအရောင်းပြခန်း**

ဤပြခန်းတွင် မြန်မာ့ရိုးရာယဉ်ကျေးမှုဆိုင်ရာ လက်မှုအနုပညာအရောင်းပြခန်းများ ပါဝင်သည်။

အသုံးပြုနိုင်သည့် ခန့်မှန်း ဧရိယာ - ၂၈၆၉၄ စတုရန်းပေ

**စာကြည့်တိုက်နှင့်အစည်းအဝေးခန်းမ**

အသုံးပြုနိုင်သည့် ခန့်မှန်း ဧရိယာ - ၆၅၁၂ စတုရန်းပေ

**ယဉ်ကျေးမှုကဇာတ်ရုံ**

ဤဇာတ်ရုံတွင် မြန်မာ့ရိုးရာယဉ်ကျေးမှု အဆို၊ အက၊ အရေး၊ အတီးများ ပြန်လည်ဖော်ထုတ်မြှင့်တင်ရန် ဆောင်ရွက်သွားပါမည်။

အသုံးပြုနိုင်သည့် ခန့်မှန်း ဧရိယာ - ၇၀၃၁ စတုရန်းပေ



# မြက်ခင်းပြင်

**မြက်ခင်းပြင်**

အပြင်ဘက်မြက်ခင်းပြင်နေရာအား တိုင်းရင်းသားရိုးရာ အထိမ်းအမှတ်နေ့များတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ခြင်း၊ နိုင်ငံတကာနှင့် ယဉ်ကျေးမှု ဖလှယ်ပွဲများ ပြုလုပ်ခြင်း၊ မြန်မာ့ရိုးရာယဉ်ကျေးမှုအနုပညာဆိုင်ရာ ပြပွဲများ ပြုလုပ်ခြင်း။



# ရုံးခန်းများနှင့်စားသောက်ဆိုင်များ


အနော်မာရုံးခန်း


ရုံခန်းများ
အသုံးပြုနိုင်သည့် ခန့်မှန်း ဧရိယာ - ၆၂၄၃၉ စတုရန်းပေ


Cultural Park များ။ Relaxation & Recreation
အသုံးပြုနိုင်သည့် ခန့်မှန်း ဧရိယာ - ၂၀၄၃၂ စတုရန်းပေ






LEGEND

Proposed Lift

Proposed Toilet

**OLD SECRETARIAT BUILDING**

YANGON, MYANMAR

MAIN BUILDING SITE PLAN

SCALE: 1" = 100'-0"

DATE 21 . 2 . 2014

ARCHITECT GROUP II













**OLD SECRETARIAT BUILDING**

YANGON, MYANMAR

**MAIN BUILDING**
**SECTION ( A, B, C, D, E, & F )**

SCALE: 1" = 20'-0"
DATE 20.2.2014

ARCHITECT GROUP II













**OLD SECRETARIAT BUILDING**

YANGON, MYANMAR

MAIN BUILDING ELEVATIONTION

SCALE: 1" = 30'-0"

DATE 20.2.2014

ARCHITECT GROUP II

**SUB-LEASE AGREEMENT**

This **AGREEMENT** is entered into on the [ ], by and between:

**(1)** **ANAWMAR ART GROUP,** a company incorporated and operating under the laws of [ ], having its registered office at [ ] (hereinafter called the "**Lessor**"); and

**(2)** -------------------- , a company incorporated and operating under the laws of the [ ] and having its registered office at [ ] (hereinafter called the "**Lessee**")

(collectively referred to as the "**Parties**" and individually a "**Party**").

**WHEREAS**

(A) The Myanmar Investment Commission ("**MIC**") has awarded to the Lessor, a contract to build on 15.936 acres of land situated at downtown Yangon, Myanmar held under the ownership of the Human Settlement and Housing Development of the Ministry of Construction (the "**Land**") and to renovate, build operate and transfer the Old Secretariat Office situated on the Land and as more accurately set out in Schedule 1, the Old Secretariat Office being hereinafter defined as the "**Buildings**").

(B) The MIC has further granted a lease to the Lessor and the Lessor has accepted a lease of the Land for a lease term of [ 20 ] years from MIC.

(C) The Government of Myanmar or the relevant governing authority/authorities has/have entered into an agreement or such agreement(s) in connection with the lease of the Land (the "**Main Lease**") and any other agreement(s) set out in Schedule 3 hereto ( the "**Government Agreement(s)**").

(D) In addition to the Lessee's appointment as contractor to carry out the renovation and restoration works on the Building, the Lessor has also agreed to grant to the Lessee a sublease for a portion of the Building, such portion of the Building as described in Schedule 2 hereto (the "**Demised Premises**") for a period of twenty (20) years, [commencing from {Insert date} or the date of this Agreement] (the "**Lease Term**"), subject to the terms and conditions of this Agreement.

(E) An application has been made to MIC by the Lessor and the Lessee for approval to the sublease by the Lessor to the Lessee for the Lease Term of the Demised Premises.

(F) Subject to MIC's written consent to the sublease, the Lessee is agreeable to taking a Lease of the Demised Premises for the Lease Term, subject to the terms and conditions of this Agreement.

**NOW IT IS HEREBY AGREED** as follows:

## 1. LEASE OF DEMISED PREMISE

1.1 In consideration of the sum of [________________________ ] to be paid in ---------- instalments (the "**Rent**"), constituting the rent for the Lease Term, and subject always to the due and prompt fulfillment of the payment of the rent by the Lessee, the Lessor hereby demises unto the Lessee, and the Lessee agrees to accept a lease of, on a "as is where is basis", all the Demised Premises, more particularly described in Schedule 2, for the Lease Term (subject always to clause 3).

1.2 All payments due to the Lessor under this Agreement shall be made by the Lessee to the Lessor's designated bank account, or such other bank account to be notified by the Lessor to the Lessee in writing on the due dates as described in Clause 2.1.1.

1.3 In the event the Rent is not paid within fifteen (15) days of the time allowed in clause 2.1.1 (whether formally demanded or not), interest at a rate of [ ] [per month] shall be payable in addition to the Rent, calculated from the day in which the Rent falls due, and ending on the day in which the Rent and interest is paid in full by the Lessee.

1.4 Further in addition to any interest imposed on the Lessee pursuant to clause 1.3, the Lessor shall also be at liberty (without any obligation to do so) to terminate this Agreement, in accordance with clause 3.2.1.

## 2. COVENANTS BY LESSEE

2.1 The Lessee for itself and its assigns hereby covenants with the Lessor as follows:-

2.1.1 To pay to the Lessor without demand, on or before the following due dates the sum of [ ] as Rent for the Lease Term in two instalments, such timing of installments as set out below:

(                    )

2.1.2 To carry out the renovation and restoration works on the Building at the cost and expense of the Lessee in accordance with the Main Lease and/or the Government Agreement(s) and also in accordance with any plans, instructions of the Lessor, and/or the relevant authorities in Myanmar, including but not limited to Yangon City Development Committee;

2.1.3 Wherever applicable to the Lessee, to observe and perform all obligations imposed on the Lessor under the Main Lease and/or the Government Agreement(s);

2.1.4 To pay all rates, taxes, charges, assessments, outgoings and impositions whatsoever which now are or which at any time hereafter during or in respect of the Lease Term shall or may be charged or imposed upon the Building, the Land or the Demised Premises or any part thereof;

2.1.5 To pay all charges including charges for supply of water, gas, sanitation and electricity, and for removal of refuse at any time hereafter during or in respect of the Lease Term charged or imposed in respect of the Land, the Building or Demised Premises;

2.1.6 To maintain and keep the Land, together with the Building, Demised Premises, and appurtenances erected thereon during the Lease Term in good and tenantable condition and repair and in clean and sanitary order and condition;

2.1.7 Not at any time during the Lease Term without the prior consent in writing of the Lessor, to demolish the Building, Demised Premises, or any building or structure erected on the Land or any part thereof or make any alteration or addition thereto and not without the same prior consent in writing of the Lessor except where required to do so in accordance with the Main Lease Agreement and/or the Government Agreement(s), to erect or put up any building or erection whatsoever in addition to the Building, or buildings and structures already erected on the Land;

2.1.8 Not to sell sublease or otherwise dispose of the Land, the Demised Premises and the Building or any part without the prior written approval of the Lessor;

2.1.9 Subject to the prior written consent of the Lessor being obtained, not to sublease, licence, share possession, or allow to occupy or otherwise dispose of the Demised Premises or any part thereof unless the period or term of such sublease commences after permits have been issued by the relevant authorities for the occupation or use of the Demised Premises and/or the Buildings (the "**Permits**") or the relevant part thereof;

2.1.10 For the purpose of clause 2.1.8, unless otherwise expressly approved in writing by the Lessor, the receipt of money or bank guarantees by the Lessee from any person or party for the purpose of booking or reserving with a view to leasing the Demised Premises in whole or in part shall be deemed to be a sublease of the same by the Lessee;

2.1.11 Prior to the issue of Permits by the relevant authorities for the whole of the said development area to mortgage or charge the Demised Premises, Building, or Land;

2.1.12 Not to use or permit or suffer the Land, Demised Premises, and/or the Building to be used otherwise than for the purpose or purposes as specified in the Main Lease and/or the Government Agreement(s), and in accordance with any other terms contained in any approvals granted by the competent authorities appointed under the provisions of any relevant statute, rule or regulation, and without prejudice to the foregoing restriction, not to carry on, or permit or suffer to be carried on in or upon the Land, the Demised Premises and/or the Buildings thereon or any part thereof any noxious dangerous or offensive trade or business which may be or become a nuisance or annoyance to the owners tenants or occupiers of neighbouring premises or premises adjoining adjacent thereto ;

2.1.13 To permit the tax authorities (or any other competent authority) or any officer authorized by them in writing on behalf of the Lessor with or without workmen and others at all reasonable times during the Lease Term to enter into and upon the Land, the Demised Premises and/or the Building thereon to view the state and conditions thereof and the tax authorities (or any other competent authority) may thereupon serve upon the Lessee notice in writing specifying any breaches of covenant and require the Lessee forthwith to remedy such breaches, and if the Lessee shall not within ten (10) days after the receipt of such notice proceed diligently to remedy such breaches, then the Lessee shall

permit the relevant authority to enter upon the Land, the Demised Premises and/or the Buildings and take steps as may be necessary to remedy such breaches and the cost thereof shall be a debt due from the Lessee to the Lessor and be forthwith recoverable by action;

2.1.14 To maintain all insurances necessary, including, but not limited to insurance for public liability insurance and to keep the entire Building and the Demised Premises insured for all risks, including fire, explosion, civil strike, as well as earthquake, flood or other natural phenomenon and such other risks as may be required under the Main Lease and/or the Government Agreement(s), and to pay all premia necessary for that purpose within fourteen (14) days (or such shorter time as required by the insurers) after the same shall become due, and to produce and to show to the Lessor, whenever required the policy of such insurance and the receipt for every such premium and to cause all moneys received by virtue of any such insurance to be forthwith laid out in rebuilding or reinstating the Demised Premises and/or the Building and all structures erected (if applicable) thereon and to make up any deficiency out of the Lessee's own moneys;

2.1.15 To fully indemnify the Lessor against all claims in respect of damage, loss or injury of every description arising directly or indirectly out of the Land, Demised Premises and/or the Buildings resulting from the acts neglect or omissions of the Lessee or its agents, employees, contractors, or representatives;

2.1.16 Subject to clause 2.1.17, at the expiry or earlier determination of the Lease Term hereby granted, to yield up to the Lessor without charge the Demised Premises together with the buildings/structure and appurtenances thereon in good and tenantable condition and state of repair and in clean and sanitary order and condition;

2.1.17 Immediately prior to the expiry or earlier determination of the Lease Term hereby granted, to remove any buildings, structures, alterations, additions or structural changes or improvements or any other works built or carried out on or to the Land if so required by the Lessor, and in such case to restore the Land, the Demised Premises and/or the Buildings to its/their state as at the commencement of the Lease Term hereby granted, in default of which the Lessor may, without prejudice to the Lessor's other rights, proceed to do the same and all costs and expenses

incurred (whether reasonably or not) by the Lessor shall be recoverable from the Lessee;

2.1.18 To pay all costs and fees, legal or otherwise including costs as between solicitor and client in connection with the enforcement of the covenants and conditions herein by the Lessor;

2.1.19 To pay on behalf of the Lessor on demand whatever amount(s) of tax charged or chargeable under the relevant statute in relation to the sublease of the Demised Premises , and all amounts of tax charged and chargeable under the Main Lease and/or the Government Agreement(s) (where applicable to the Lessor in its capacity as lessee under the aforementioned agreements);

2.1.20 To at all times comply with all such rules and regulations as may be imposed by such relevant authorities and the terms and conditions contained in the Main Lease and/or the Government Agreement(s) in respect of the Land, the Demised Premises and/or the Building as entered into or to be entered into between the Lessor and the relevant authorities, which may be updated from time to time (and as set out in Schedule 3);

2.1.21 To handover mineral resources, treasure, gems and other natural resources discovered (whether by itself or not) unexpectedly from, in or under in the land at which the Building and Demised Premises is situated either to the Government of the Republic of the Union of Myanmar, the relevant authority or to the Lessor, and shall waive all claims over such mineral, deposits or resources so discovered.

2.1.22 LESSEE shall, at its own cost and expense, maintain with insurance company, satisfactory to LESSOR, fire, extended coverage, insurance insuring the Development area, in any amount sufficient to cover the full replacement cost of such Development area. LESSEE shall deliver to LESSOR on demand the said policies as well as the receipts for payment of premia in respect thereof. Should LESSEE fail to obtain or maintain in effect the insurance called for herein or to pay the premia therefore or to deliver said policies , receipts thereof to LESSOR, LESSEE shall indemnify and hold LESSOR harmless from all loss or damage incurred by LESSOR arising out of such failure.

## 3. LESSOR'S COVENANT

3.1 Subject to the due and prompt performance by the Lessee of all its obligations under this Agreement and the due compliance and observance of the terms and conditions of the Main Lease and/or the Government Authorities (wherever applicable to the Lessee), the Lessor hereby covenants with the Lessee that the Lessee shall and may peaceably and quietly hold and enjoy the said Demised Premises for the Lease Term hereby granted without any interruption from the Lessor or from any persons lawfully claiming through under or in trust for him.

3.2 PROVIDED ALWAYS that if:

3.2.1 the Lessee fails to pay up the Rent, and any interest that may have incurred thereon, and such failure to make payment persists for more than thirty (30) days after the time allowed for payment in clause 2.1.1;

3.2.2 if the Lessee ceases or threatens to cease to carry on its business;

3.2.3 if a distress or execution is levied upon or issued against any of the property or assets of the Lessee;

3.2.4 if legal proceedings suits or actions of any kind (civil or criminal) shall be instituted against the Lessee which in the opinion of the Lessor, would materially and adversely affect the Lessee's ability to perform and observe his obligations under this Agreement;

3.2.5 if a receiver is appointed for the property, assets, undertaking or any part thereof of the Lessee;

3.2.6 if a confiscation order, charging order, restrain order, production order or search warrant is issued or threatened to be issued against the Lessee and/or the assets of the Lessee;

3.2.7 if any step is taken for the winding up/liquidation (whether voluntary, involuntary, or court sanctioned) of the Lessee;

3.2.8 if any petition is presented or any interim order applied for, by any person for the bankruptcy of the directors of the Lessee;

3.2.9 if the Lessee is unable to pay its debts as they fall due, stops ,suspends, or threatens to stop or suspend payment of all or a material part of its debts, begins negotiations or takes any

